အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fresco Myanmar Company Limited မှ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူအမည် | - Fresco Myanmar Company Limited |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Paolo Cerati (Italy) ၄၅%<br>Mr. Edward Oliver Russell (United Kingdom) ၂၂.၅%<br>ဦးမိုးကျော် (မြန်မာ) ၂၂.၅%<br>Mr. Rudolf Walter Gildemeister(Switzerland) ၁၀ % |
| | လုပ်ငန်းအမျိုးအစား | - ဟင်းသီးဟင်းရွက်များ စိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၁၇+၃၀၊ ၁၈)၊ ဦးပိုင်အမှတ် (၉၈၊ ၉၉)၊ ကွင်းအမှတ် ( ၂ ) ၊ ဟဲဟိုးချိုင့်ဝှမ်း၊ ဟဲဟိုးကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း) |
| ၃။ | မြေပိုင်ရှင် | - Valle Verde Company Limited |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၄.၅၄ ဧက |
| ၄။ | တစ်နှစ်မြေငှားရမ်းခ | - ကျပ် ၃,၀၀၀,၀၀၀<br>- (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၁၆၃.၂၉ ကျပ်နှုန်း) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - အမေရိကန်ဒေါ်လာ ၀.၀၉၉ သန်း |

US$(သန်း)

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၀၂၂ | ၀.၀၇၇ | ၀.၀၉၉ |
| စုစုပေါင်း | ၀.၀၂၂ | ၀.၀၇၇ | ၀.၀၉၉ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၃၆ ဦး |
| | ပြည်တွင်း | - ၃၅ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာကျပ် ၃,၀၀၀,၀၀၀ ဖြစ် ပါသည်။) |

ကန့်သတ်

၈။ ရောင်းချမည့်စနစ် ထုတ်လုပ်မှု ပုံမှန်နှစ်

- ပြည်တွင်း ၁၀၀ %

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ kg) |
|---|---|---|---|
| (က) | Tomatoes | ၃၇,၅၀၀ | ၄,၀၀၀ |
| (ခ) | Bell Pepper | ၂၄,၀၀၀ | ၄,၅၀၀ |
| (ဂ) | Lettuces | ၁၆,၀၀၀ | ၅,၀၀၀ |
| (ဃ) | Mix Vegetables | ၁၆,၀၀၀ | ၇,၀၀၀ |

၉။ အခြားတင်ပြချက်

- Fresco Myanmar Company Limited နှင့် Valle Verde Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) ၊မြေစာရင်းပုံစံ-၁၀၅ နှင့် လယ်ယာ မြေပုံစံ-၇ တို့အား တင်ပြထားပါသည်။
- မြေပိုင်ရှင် ဒေါ်ချို ထံမှ Valle Verde Company Limited အမည်ဖြင့် ဝယ်ယူထားသည့် မြေအရောင်းအဝယ်စာချုပ်အား တင်ပြထားပါသည်။
- ငွေရေးကြေးရေး အထောက်အထားအဖြစ် Royal Bank of Scotland တွင် Edward Russell အမည်ဖြင့်(၂၆-၁၁-၂၀၁၈) ရက်နေ့တွင် US$ ၁၁၀၆၇.၀၀ ရှိကြောင်း၊ ရောဝတီဘဏ်တွင် Fresco Myanmar Company Limited အမည်ဖြင့်(၂-၁၁-၂၀၁၈) ရက်နေ့တွင် US$ ၁၇၆၀၈.၄၈ နှင့် (၆-၁၁-၂၀၁၈) ရက်နေ့တွင် ကျပ် ၁၉,၁၆၇,၂၄၂.၁၉ ရှိကြောင်း တင်ပြထားပါသည်။
- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။
- Fresco Myanmar Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် မိတ္တူအား တင်ပြထားပါသည်။
- Global G.A.P လက်မှတ်အား တင်ပြထားပါသည်။

၁၀။ စိစစ်တင်ပြချက်

- အတည်ပြုလျှောက်ထားလာသောလုပ်ငန်းသည် ISIC-011 တွင် အကျုံးဝင်ပါသည်။
- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် (၁၅/၂၀၁၇) အပိုဒ်(ဃ)၊ အပိုဒ်ခွဲ(၃)အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက် ရယူရခြင်းဖြစ်ပါသည်။

| | | |
|---|---|---|
| | | – နိုင်ငံခြားသားနှင့် မြန်မာရှယ်ယာရှင်များအကြား ချုပ်ဆိုမည့် shareholder agreement စာချုပ်(မူကြမ်း)အား တင်ပြထားပါသည်။<br>– Fresco Myanmar Company Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ ဝန်ထမ်း သက်သာ ချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်တို့အား တင်ပြထားပါသည်။<br>– လုပ်ငန်းအတွက်လိုအပ်သော လုပ်ငန်းသုံးပစ္စည်းများ၊ စက်ပစ္စည်း နှင့် မော်တော်ယာဉ်များကို ပြည်တွင်းမှ ဝယ်ယူပြီးဖြစ်ပါသည်။<br>– Capital Contribution financial statements အား တင်ပြထားပါသည်။<br>– အတည်ပြုလျှောက်ထားလာသောလုပ်ငန်းသည် အတည်မိန့် ရယူခဲ့ခြင်း မရှိဘဲ စီးပွားရေးလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လျက်ရှိသဖြင့် အမိန့်ကြော်ငြာစာအမှတ် (၈၄/၂၀၁၇) အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၅ (က)ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့်ကို လျှောက်ထားနိုင်မည် မဟုတ်ပဲ ပုဒ်မ ၇၇ (ခ) / (ဂ) နှင့် (ဃ) ပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ရရှိလိုပါက တင်ပြလျှောက်ထားနိုင်မည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ အ-၀၄၄/ ၂၀၁၉( ၂၄၉ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဩဂုတ်လ ၂၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fresco Myanmar Company Limited မှ ဟင်းသီးဟင်းရွက်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

၁။ အီတလီနိုင်ငံ Mr. Paolo Cerati မှ ၄၅ %၊ အမေရိကန်နိုင်ငံမှ Mr. Edward Oliver Russell မှ ၂၂.၅%၊ မြန်မာနိုင်ငံ ဦးမိုးကျော် မှ ၂၂.၅% နှင့် ဆွစ်ဇာလန်နိုင်ငံမှ Mr. Rudolf Walter Gildemeister မှ ၁၀ % အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Fresco Myanmar Company Limited တည်ထောင်ပြီး မြေကွက်အမှတ်-၁၈၊ ဦးပိုင် အမှတ် - ၉၉၊ မြေကွက်အမှတ်-၁၇+၃၀၊ ဦးပိုင်အမှတ်- ၉၈၊ ကွင်းအမှတ်-၂ ဟဲဟိုးချို့ဝှမ်း၊ ဟဲဟိုး ကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း) ရှိ စုစုပေါင်းမြေဧရိယာ ၄.၅၄ ဧက အား ငှားရမ်း၍ ဟင်းသီးဟင်းရွက်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်Valle Verde Company Limitedနှင့် Fresco Myanmar Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ အစုရှယ်ယာ စာချုပ်(မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများ၊ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူ တို့အား တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းမှာကနဦး နှစ် ၅၀ ဖြစ်ပါသည်။ မြေဧရိယာ ၄.၅၄ ဧကအား ငှားရမ်း၍ လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။ တစ်နှစ်မြေငှားရမ်းခမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ၁၆၃.၂၉ ကျပ်နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၀၉၉သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက်လိုအပ်သော လုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူပြီး ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$(သန်း)

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၀၂၂ | ၀.၀၇၇ | ၀.၀၉၉ |
| **စုစုပေါင်း** | ၀.၀၂၂ | ၀.၀၇၇ | ၀.၀၉၉ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၃၅ ဦးနှင့် ပြည်ပဝန်ထမ်း ၁ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၃၆ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်

**ကန့်သတ်**

၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ဟင်းသီးဟင်းရွက်များအား ပြည်တွင်း ၁၀၀% ထုတ်လုပ်ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်းဖြစ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက်(Kg) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Kg) |
|---|---|---|---|
| (က) | Tomatoes | ၃၇,၅၀၀ | ၄,၀၀၀ |
| (ခ) | Bell Pepper | ၂၄,၀၀၀ | ၄,၅၀၀ |
| (ဂ) | Lettuces | ၁၆,၀၀၀ | ၅,၀၀၀ |
| (ဃ) | Mix Vegetables | ၁၆,၀၀၀ | ၇,၀၀၀ |

၈။ အတည်ပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံးမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုဆောင်ရွက် ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Mr. Edward Russell အမည်ဖြင့် Royal Bank of Scotland တွင် ၂၆-၁၁-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၁,၀၆၇.၀၀ ရှိကြောင်းနှင့် Fresco Myanmar Company Limited အမည်ဖြင့် ရောဝတီဘဏ်တွင် ၆-၁၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၉,၁၆၇,၂၄၂.၁၉ ရှိ ကြောင်း တင်ပြထားပါသည်။

စိစစ်တင်ပြချက်

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲ မှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလျှောက်ထားလာသောလုပ်ငန်းသည် အတည်မိန့် ရယူခဲ့ခြင်း မရှိဘဲ စီးပွားရေးလုပ်ငန်း လုပ်ကိုင်ဆောင်ရွက် လျက်ရှိသဖြင့် အမိန့်ကြော်ငြာစာအမှတ် (၈၄/၂၀၁၇) အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၅ (က)ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့်ကို လျှောက်ထားနိုင်မည် မဟုတ်ပဲ ပုဒ်မ ၇၇ (ခ) / (ဂ) နှင့် (ဃ) ပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ရရှိလိုပါက တင်ပြလျှောက်ထားနိုင်မည်ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၁။ Fresco Myanmar Company Limited မှ ဟင်းသီးဟင်းရွက်များ စိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေး ရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၁၈၅၀ / ၇ - ၂၁၆ / အစရ ( ရှမ်း)
ရက် စွဲ ၊ ၂၀၁၉ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပေးပို့ခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၆-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၂/ အ-၀၄၄ /၂၀၁၉ (၁၆၇)

၁။ အီတလီနိုင်ငံ Mr. Paolo Cerati မှ (၄၅ %)၊ အမေရိကန်နိုင်ငံမှ Mr. Edward Oliver Russell မှ (၂၂.၅%) ၊ မြန်မာနိုင်ငံ ဦးမိုးကျော်မှ (၂၂.၅ %)နှင့် ဆွစ်ဇာလန်နိုင်ငံမှ Mr. Rudolf Walter Gildemeisterမှ(၁၀%)အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Fresco Myanmar Company Limited တည်ထောင်ပြီး ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဟဲဟိုးကျေးရွာအုပ်စု၊ ဟဲဟိုးချိုင့်ဝှမ်း၊ ကွင်းအမှတ်(၂)၊ မြေကွက်အမှတ်(၁၈၊၁၇+၃၀)၊ ဦးပိုင်အမှတ် (၉၈၊ ၉၉)ရှိ စုစုပေါင်း မြေဧရိယာ (၄.၅၄)ဧက (၁၈၃၇၂.၇၄ စတုရန်းမီတာ)အား ငှားရမ်း၍ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ Fresco Myanmar Company Limited မှ အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့် ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်မှု ရှိ/မရှိ။

( ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

( ဂ) ဖော်ပြပါမြေနေရာ၌ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဟုတ်/ မဟုတ်။

( င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တောင်ကြီးခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ အောက်ပါအတိုင်းစိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာမှာ ကလောမြို့နယ်၊ ဟဲဟိုးကျေးရွာအုပ်စု၊

Chaw 472/19

ကွင်းအမှတ်၊၂ (ဟဲဟိုးချိုင့်ဝှမ်းကွင်း)၊ ဦးပိုင်အမှတ်၊ (၉၈၊ ၉၉)၊ မြေကွက်အမှတ် (၁၈၊ ၁၇+၃၀)၊ ဧရိယာ(၂.၇၁၊ ၁.၈၃)ဧက၊ စုစုပေါင်း (၄.၅၄)ဧကရှိ ယာမြေပေါ်တွင် ဆောင်ရွက်ရန်ဖြစ်ကြောင်း၊

( ခ ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်သည့် နေရာအမျိုးအစားဖြစ်ပြီး ကွင်းဆင်းစိစစ်ချိန်တွင် ဂေါ်ဖီထုပ်၊ ခရမ်းချဉ်(ကြီး/သေး)၊ သခွား၊ ဆလပ်ရွက်စသည့် ဟင်းသီးဟင်းရွက် များ စိုက်ပျိုးထားရှိပါကြောင်း၊

( ဂ ) အဆိုပါ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ပါက ဒေသပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းတိုးပွားစေမည်ဖြစ်ပြီး ဒေသထွက်ကုန် ဖွံ့ဖြိုးတိုးတက်မှုအတွက် အရည်အသွေးပြည့်မီသော ထွက်ကုန်အဖြစ် အထောက်အကူပြုနိုင်ကြောင်း၊

(ဃ) ဖော်ပြပါမြေနေရာ၌အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများ၊ သက်ဆိုင်ရာကျေးရွာအုပ်စု၊ အုပ်ချုပ်ရေးအဖွဲ့အစည်းများအနေဖြင့် အဆိုပြုလုပ်ငန်းဖြစ်သည့် ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း၊

( င ) ကွင်းဆင်းစိစစ်ချိန်တွင် Fresco Myanmar Company Limited မှ Green House အမျိုးအစား(၅)လုံးတွဲ(၁)လုံး၊ (၃)လုံးတွဲ (၂)လုံးနှင့် Tunnel အမျိုးအစား(၂)လုံးတည်ဆောက်၍ ဂေါ်ဖီထုပ်၊ သခွား၊ ခရမ်းချဉ်(ကြီး/သေး)၊ ဆလတ်ရွက်အမျိုးမျိုးစသည့် ဟင်းသီးဟင်းရွက်များအား ဒေသခံအလုပ်သမား(၂၅)ဦးဖြင့် စိုက်ပျိုးလုပ်ကိုင်လျက် ရှိကြောင်း၊

( စ ) ကလောမြို့နယ်၊ဟဲဟိုးကျေးရွာအုပ်စု၊ ကွင်းအမှတ်၊ ၂ (ဟဲဟိုးချိုင့်ဝှမ်းကွင်း)၊ ဦးပိုင်အမှတ်၊(၉၈၊ ၉၉)၊ မြေကွက်အမှတ်(၁၈၊ ၁၇+၃၀)၊ ဧရိယာ(၂.၇၁၊ ၁.၈၃)ဧက၊ စုစုပေါင်း (၄.၅၄)ဧကရှိ မြေပေါ်တွင် Valle Verde ကုမ္ပဏီထံမှ ၁ နှစ်လျှင် ငွေကျပ်သိန်း(၃၀၀)ဖြင့် မြေအသုံးပြုခွင့် လျှောက်လွှာပုံစံဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌထံ ခွင့်ပြုလျှောက်ထားငှားရမ်းထားပါကြောင်း၊

(ဆ) Fresco Myanmar Company Limited မှ အဆိုပါမြေနေရာအား နှစ်အလိုက်ငှားရမ်း၍ USD (99,000)ဖြင့် စတင်ရင်းနှီးမြှုပ်နှံလုပ်ကိုင်နေပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသဖြင့် လက်ရှိဒေသခံ အလုပ်သမားအင်အားထက်(၂)ဆကျော် အသုံးပြုရမည်ဖြစ်ကြောင်း Fresco Myanmar Company Limited မှ အဆိုပြုတင်ပြချက်အပေါ် ခွင့်ပြုပေးသင့်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ တောင်ကြီးခရိုင်၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဟဲဟိုးကျေးရွာအုပ်စု၊ ဟဲဟိုးချိုင့်ဝှမ်း၊ ကွင်းအမှတ်(၂)၊ မြေကွက် အမှတ်(၁၈၊၁၇+၃၀)၊ ဦးပိုင်အမှတ် (၉၈၊ ၉၉)ရှိ စုစုပေါင်းမြေဧရိယာ(၄.၅၄)ဧက(၁၈၃၇၂.၇၄စတုရန်းမီတာ)အား ငှားရမ်း၍ ဟင်းသီးဟင်းရွက်များ စိုက်ပျိုး

ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Fresco Myanmar Company Limited မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ၈-၈-၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေး အမှတ်စဉ် (၂-၈/ ၂၀၁၉) ဆုံးဖြတ်ချက် အပိုဒ် ၄(စ) အရ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ အတိုင်း ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်( ကခ )
( စိုးညွန့်လွင်၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

Fresco Myanmar Company Limited
ရုံးလက်ခံ
မျှောစာတွဲ

Chaw 474/19

နောက်ဆက်တွဲ- ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်။ ၄/၉၀(က)(၃)(၃၀၃၄ /၂၀၁၉)(လဆ)
ရက်စွဲ ။ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉.၆.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက-၂/ အ-၀၄၄/၂၀၁၉(၁၆၈)

၁။ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ ကလောမြို့နယ်၊ ဟဲဟိုးကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-၉၈၊ ၉၉၊ မြေကွက်အမှတ်-၁၈၊ ၁၇+၃၀၊ ကွင်းအမှတ်-၂ ရှိ မြေဧရိယာ(၄.၅၄)ဧကအား ငှားရမ်း၍ အီတလီနိုင်ငံ၊ အမေရိကန်နိုင်ငံ၊ ဆွစ်ဇလန်နိုင်ငံမှ ပုဂ္ဂိုလ်များနှင့် မြန်မာနိုင်ငံမှ ဦးမိုးကျော်တို့က ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fresco Myanmar Co.,Ltd တည်ထောင်ပြီး ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်မည်ဖြစ်ကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားခဲ့ခြင်းနှင့် ပတ်သက်၍ သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနအနေဖြင့် Fresco Myanmar Co.,Ltd တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြု ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( လှကျော်၊ ဒုတိယဝန်ကြီး )

မိတ္တူ
- စိုက်ပျိုးရေးဦးစီးဌာန

TDA-3035(25.7.2019pg45)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၃၇/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Fresco Myanmar Company Limited မှ ဟင်းသီးဟင်းရွက်များစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၆-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-ဝ၄၄/၂၀၁၉ (၁၆၆)

၁။ အီတလီနိုင်ငံသား Mr. Paolo Cerati မှ ၄၅%၊ အမေရိကန်နိုင်ငံသား Mr. Edward Oliver Russell မှ ၂၂.၅%၊ မြန်မာနိုင်ငံသားဦးမိုးကျော်မှ ၂၂.၅%နှင့် ဆွစ်ဇာလန်နိုင်ငံသား Mr. Rudolf Walter Gildemeister မှ ၁၀% ဖြင့် အစုရှယ်ယာများ အသီးသီးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Fresco Myanmar Company Limited တည်ထောင်ပြီး ဦးပိုင်အမှတ်- ၉၈၊ ၉၉၊ မြေကွက်အမှတ်- ၁၈၊ ၁၇+၃၀၊ ကွင်းအမှတ်- ၂၊ ဟဲဟိုးချိုင့်ဝှမ်း၊ ဟဲဟိုးကျေးရွာအုပ်စု၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း) ရှိ စုစုပေါင်းမြေဧရိယာ ၄.၅၄ ဧက (၁၈၃၇၂.၇၄ စတုရန်းမီတာ) အားငှားရမ်း၍ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ လိုအပ်မှုမရှိကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၁၈၃၇၂.၇၄ စတုရန်းမီတာ) တွင် ပလတ်စတစ်အမိုးများပြုလုပ်၍ Hydroponic Greenhouse Production နည်းပညာဖြင့် ဓာတ်မြေသြဇာ အသုံးပြုခြင်း မရှိဘဲ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ဟင်းသီးဟင်းရွက်တန်ချိန် (၉၀) ကျော်မှ (၁၀) နှစ်အတွင်း တန်ချိန် (၃၀၀) ခန့်အထိ စိုက်ပျိုးထုတ်လုပ် ရောင်းချကာလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေကို ရာခိုင်နှုန်းတစ်ခုခုဖြင့် သတ်မှတ်၍ လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Fresco Myanmar Company Limited မှ ဟင်းသီးဟင်းရွက်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီး ပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(ဃ) စိုက်ပျိုးရာတွင် အသုံးပြုသည့် ပိုးသတ်ဆေးများသည် ရည်ရွယ်သည့်ပေါင်းပင်နှင့် ပိုးမွှားများသာမက လူအပါအဝင် အခြားအပင်နှင့် တိရစ္ဆာန်များထိခိုက်စေနိုင်ပြီး မြေကြီးအတွင်းသို့ စိမ့်ဝင်ရာမှ မြေအောက် ရေထုနှင့် မြေထုအား ညစ်ညမ်းစေခြင်း၊

(င) အချို့သော ပိုးသတ်ဆေးနှင့် ဓာတ်မြေဩဇာများသည် ပတ်ဝန်းကျင်၌ ကြာရှည်စွာတည်ရှိနိုင်ပြီး ရေ၌ပျော်ဝင်နိုင်မှု နည်းပါးသဖြင့် သက်ရှိများ၏ အဆီများတွင် ကြာရှည်တည်ရှိနိုင်ခြင်း၊

(စ) လုပ်ငန်းများဆောင်ရွက်ရာတွင်ပါဝင်သည့် Chemical composition ပေါ်မူတည်၍ အစာကွင်း ဆက်အတွင်းသို့ရောက်ရှိကာ သဘာဝပတ်ဝန်းကျင်ရှိ တောရိုင်းတိရစ္ဆာန်များအား ထိခိုက်စေနိုင်သည့်အပြင် လူတို့၏ ကျန်းမာရေးအား ထိခိုက်စေနိုင်ခြင်း၊ ပိုးသတ်ဆေးကို စနစ်တကျကိုင် တွယ်အသုံးပြုခြင်းမရှိပါက အလုပ်သမား၏ ကျန်းမာရေးအား ထိခိုက်စေနိုင်ခြင်း လုပ်ငန်းခွင်နှင့် ပတ်ဝန်းကျင်တွင်နေထိုင်သည့် ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Fresco Myanmar Company Limited မှ ဟင်းသီးဟင်းရွက်များစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်း

ရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေကို ရာခိုင်နှုန်းတစ်ခုခုဖြင့် သတ်မှတ်၍ အသုံးပြုခြင်းအပါ အဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရှမ်းပြည်နယ်
ရုံးလက်ခံ